အကြောင်းအရာ။ ရာခိုင်နှုန်းပြည့်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Vitabio Myanmar Company Limited တည်ထောင်ကာ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဝက်မွေးမြူ ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အတည်ပြု လျှောက်ထားလွှာ တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - Vitabio Myanmar Company Limited |
| | ရင်းနှီးမြှုပ်နှံသူ | Mr. Hyun Baek Kim (Korean) |
| | ရင်းနှီးမြှုပ်နှံမှု ပုံသဏ္ဍာန် | - ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| | | - Vitabio Co., Ltd ( Incorporate in Korea) ၆၀% |
| | | - Mr. Hyun Baek Kim (Korean) ၂၀% |
| | | - Mr. Ki Jong Yu (Korean) ၂၀% |
| | လုပ်ငန်းအမျိုးအစား | - ဝက်မွေးမြူ ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ်- (အေ-၂၃)၊ စီ-၆လမ်း၊ ကွင်းအမှတ်-၉၇၇/၉၈၇၊ ကြာအင်းကျေးရွာအုပ်စု၊ အထူးဇုန်(၁)၊ လှည်းကူးမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင် | - ဦးလွင်ဦး |
| | မြေအကျယ်အဝန်း | - ၅ ဧက (၂၀၂၃၄ စတုရန်း မီတာ) |
| | နှစ်စဉ်မြေငှားရမ်းခ | - တစ်နှစ် တစ်စတုရန်းမီတာလျှင် US$ ၀.၁၂၂ နှုန်းဖြင့် ၂၀၂၃၄ စတုရန်း မီတာအတွက် မြေငှားရမ်းခ စုစုပေါင်း US$ ၂,၄၆၇ |
| | မြေငှားရမ်းအသုံးပြုခွင့် သက်တမ်း | - ကနဦး ၃၀ နှစ်နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် |
| ၄။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်သက်တမ်း | - ကနဦး ၃၀ နှစ်နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် |
| ၅။ | တည်ဆောက်မှုကာလ/ ပြင်ဆင်မှုကာလ | - ၁ နှစ် |

**၆။ စုစုပေါင်းမတည်ငွေရင်း ပမာဏ** - အမေရိကန်ဒေါ်လာ ၂.၀၀ သန်း

**ထည့်ဝင်သည့်အမျိုးအစား** - (မတည်ငွေ ၀.၅သန်းနှင့် ချေးငွေ ၁.၅သန်း)

| | Equity (US$) | Loan (US$) | စုစုပေါင်း (US$) |
|---|---|---|---|
| ငွေသား | ၃၈၈,၀၀၀ | ၂၉၉,၉၂၂.၈၃ | ၆၈၇,၉၂၂.၈၃ |
| စက်ပစ္စည်းကိရိယာတန်ဖိုး | | ၂၀၀,၀၇၇.၁၇ | ၂၀၀,၀၇၇.၁၇ |
| လျှပ်စစ်ပစ္စည်းတန်ဖိုး | ၇၀,၀၀၀ | | ၇၀,၀၀၀ |
| ရုံးလုပ်ငန်းသုံးကိရိယာတန်ဖိုး | ၂၂,၀၀၀ | | ၂၂,၀၀၀ |
| မော်တော်ယာဉ် | ၂၀,၀၀၀ | | ၂၀,၀၀၀ |
| အဆောက်အဦးကုန်ကျစရိတ် | | ၁,၀၀၀,၀၀၀ | ၁,၀၀၀,၀၀၀ |
| စုစုပေါင်း | ၅၀၀,၀၀၀ | ၁,၅၀၀,၀၀၀ | ၂,၀၀၀,၀၀၀ |

**၇။ ရောင်းချမည့်စနစ်** - ၁၀၀% ပြည်တွင်းရောင်း

**၈။ ထုတ်လုပ်မှုနှင့်ရောင်းဈေးနှုန်း**

| ပစ္စည်းအမျိုးအစား | ထုတ်လုပ်မှုအရေ အတွက် (ကောင်) | ဈေးနှုန်း (ကျပ်/ကောင်) |
|---|---|---|
| ဝက် | ၂၅၀၀ | ၃၅၀,၀၀၀ |

**၉။ ဝန်ထမ်းခန့်ထားမှု**

| | ပြည်တွင်း | ပြည်ပ |
|---|---|---|
| ဦးရေ | ၂၄ | ၁ |
| အမြင့်ဆုံးလစာ | ၁,၀၀၀,၀၀၀(ကျပ်) | ၂,၅၀၀,၀၀၀(ကျပ်) |
| အနိမ့်ဆုံးလစာ | ၁၅၀,၀၀၀(ကျပ်) | - |

**အခြားတင်ပြချက်**

- ငွေကြေးအထောက်အထားအဖြစ် Vitabio Myanmar Company Limited အမည်ဖြင့် Shinhan Bank တွင် (၂၂-၁၂-၂၀၁၇) ရက်နေ့၌USD ၈၀,၀၀၀.၀၀နှင့် USD ၂၄၀,၀၀၀.၀၀ ရှိကြောင်း တင်ပြထားပါသည်။
- မြေပိုင်ရှင် ဦးလွင်ဦးနှင့် Vitabio Myanmar Company Limited တို့ ချုပ်ဆိုမည့် မြေငှားရမ်း စာချုပ် (မူကြမ်း)တင်ပြထားပါသည်။
- မြေအထောက်အထားအဖြစ် ဦးလွင်ဦး အမည်ဖြင့် အထူးဇုန်ကြီးကြပ်မှု ဗဟိုကော်မတီ၏လုပ်ငန်းလုပ်ကိုင်ခွင့်အထောက်အထားတင်ပြထားပါသည်။
- စက်ပစ္စည်းအမေရိကန်ဒေါ်လာ ၂၀၀,၀၇၇.၁၇ ဖိုးအား ပြည်ပမှ တင်သွင်းမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

| | | |
|---|---|---|
| | | - အဆိုပြုလုပ်ငန်းအတွက် တိရစ္ဆာန်အစာများကို ပြည်တွင်းမှ ဝယ်ယူမည်ဖြစ်ကြောင်းနှင့် Parent Stock ကို ထိုင်းနိုင်ငံမှ တင်သွင်းမည်ဖြစ်ကြောင်း တင်ပြထား ပါသည်။<br>- တိရစ္ဆာန်များစီးပွားဖြစ် မွေးမြူထုတ်လုပ် ရောင်းချခြင်း လုပ်ငန်းအား ရင်းနှီး မြှုပ်နှံမှု ပမာဏ US$ ၅သန်း (သို့မဟုတ်) ကျပ်သန်း ၆၀၀၀နှင့် အထက် သတ်မှတ် သည့် အမိန့်ကြော်ငြာစာ (၅/၂၀၁၈) အား ၂၈-၂-၂၀၁၈ ရက်နေ့စွဲဖြင့် ထုတ်ပြန်ခဲ့သော်လည်း ယခု အဆိုပြုလုပ်ငန်းမှာ (၂၅-၁-၂၀၁၈) ရက်နေ့တွင် လက်ခံဆောင်ရွက်ထားသည့် အဆိုပြုချက်ဖြစ်နေပါသဖြင့် တင်ပြရခြင်းဖြစ်ပါသည်။ |
| ၉။ | စိစစ်တင်ပြချက် | - အဆိုပြုလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှု ဦးစားပေးမြှင့်တင်မည့် ကဏ္ဍတွင် ပါဝင်ပြီး ISIC -0145 တွင်အကျုံးဝင်ပါသည်။<br>- အဆိုပြုလုပ်ငန်းသည် ဖွံ့ဖြိုးတိုးတက်မှုဇုန်(၂) တွင် ပါဝင် ကြောင်း စိစစ်တွေ့ရှိရပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊မရက-၂/အ-၀၂၆ /၂၀၁၈(၁၃၆ )
ရက်စွဲ ၊၂၀၁၈ ခုနှစ် မတ်လ ၉ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ရာနိုင်နှုန်းပြည့်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Vitabio Myanmar Co., Ltd. တည်ထောင်ကာ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဝက်မွေးမြူရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ခွင့် ပြုပါရန် အတည်ပြုချက် တင်ပြခြင်းကိစ္စ**

၁။ Vitabio Co., Ltd ( Incorporate in Korea) မှ ၆၀% ၊ Mr. Hyun Baek Kim (Korean) မှ ၂၀% နှင့် Mr. Ki Jong Yu(Korean) မှ ၂၀% အစုရှယ်ယာများ တို့သည် ရာနိုင်နှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Vitabio Myanmar Co., Ltd. တည်ထောင်ကာ မြေကွက်အမှတ် - (အေ-၂၃)၊ စီ-၆ လမ်း၊ အထူးဇုန်(၁)၊ ကွင်းအမှတ် - ၉၇၇/၉၈၇ ၊ ကြာအင်း ကျေးရွာအုပ်စု၊ လှည်းကူးမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၅ ဧက (၂၀၂၃၄ စတုရန်းမီတာ) တွင် ဝက်မွေးမြူရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် အညီဆောင်ရွက်ခွင့်ပြုပါရန် ကော်မရှင်သို့ အဆိုပြုချက်တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် ဦးလွင်ဦးနှင့် Vitabio Myanmar Company Limited တို့ ချုပ်ဆိုမည့် မြေငှားရမ်းခြင်း သဘောတူစာချုပ်(မူကြမ်း)၊ မြေဆိုင်ရာ အထောက်အထားများ၊ ထုတ်လုပ်မှုပစ္စည်း နမူနာဓာတ်ပုံများအား ပူးတွဲ တင်ပြ ထားပါသည်။

၃။ မြေငှားသက်တမ်းမှာ ကနဦး ၃၀ နှစ် ငှားရမ်းမည်ဖြစ်ပြီး နောက်ထပ် ၁၀နှစ်၂ကြိမ် သက် တမ်းတိုးမည်ဖြစ်ပါသည်။ စုစုပေါင်းမြေ ၅ ဧက (၂၀၂၃၄ စတုရန်းမီတာ) အား ငှားရမ်း၍ နှစ်စဉ် မြေငှားရမ်းခမှာ US$ ၂,၄၆၇ ဖြစ်ပြီး (၁) နှစ် တစ်စတုရန်းမီတာလျှင် US$ ၀.၁၂၂ နှုန်း ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၃၀နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၁နှစ် ကြာမြင့်မည်ဖြစ်ကြောင်းတင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ US$ ၂.၀၀ သန်း (မတည်ငွေ ၀.၅သန်း နှင့် ချေးငွေ၁.၅သန်း) ဖြစ်ပါသည်။ မတည်ငွေရင်း ထည့်ဝင်မှုများမှာတစ်ဖက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် အကြောင်းအရာ | Equity (US$) | Loan (US$) | **စုစုပေါင်း** (US$) |
|---|---|---|---|
| (က) နိုင်ငံခြားငွေ | ၃၈၈,၀၀၀ | ၂၉၉,၉၂၂.၈၃ | ၆၈၇,၉၂၂.၈၃ |
| (ခ) စက်ပစ္စည်း၊ စက်ကရိယာတန်ဖိုး | | ၂၀၀,၀၇၇.၁၇ | ၂၀၀,၀၇၇.၁၇ |
| (ဂ) လျှပ်စစ်တန်ဖိုး | ၇၀,၀၀၀ | | ၇၀,၀၀၀ |
| (ဃ) ရုံးသုံးကိရိယာတန်ဖိုး | ၂၂,၀၀၀ | | ၂၂,၀၀၀ |
| (င) ကားများတန်ဖိုး | ၂၀,၀၀၀ | | ၂၀,၀၀၀ |
| (စ) အဆောက်အဦးကုန်ကျစရိတ် | | ၁,၀၀၀,၀၀၀ | ၁,၀၀၀,၀၀၀ |
| **စုစုပေါင်း** | ၅၀၀,၀၀၀ | ၁,၅၀၀၀,၀၀၀ | ၂,၀၀၀,၀၀၀ |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း ၂၄ဦးနှင့် ပြည်ပ ဝန်ထမ်း ၁ ဦးခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာကျပ် ၁၅၀,၀၀၀နှင့် အမြင့်ဆုံး လစာ ကျပ် ၁,၀၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပ ဝန်ထမ်း တစ်ဦး ၏လစာမှာ ကျပ် ၂,၅၀၀,၀၀၀ ဖြစ်ပါ သည်။

၇။ လုပ်ငန်းမှထွက်ရှိသောပစ္စည်းများကို ပြည်တွင်းတွင် ၁၀၀% ရောင်းချ မည်ဖြစ်ပါသည်။ ထုတ်လုပ်မှု အရေအတွက်နှင့် ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| **ထုတ်လုပ်မည့် ပစ္စည်းအမျိုးအမည်** | **ပြည်တွင်း(၁၀၀%)** **ရောင်းချမှုအရေအတွက် (ကောင်)** | **ရောင်းဈေးနှုန်း (ကျပ်/ကောင်)** |
|---|---|---|
| ဝက် | ၂၅၀၀ | ၃၅၀,၀၀၀ |

၈။ လုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားမှတ်ချက် တောင်းခံခဲ့ရာ အောက်ပါအတိုင်း ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ကြောင်း သဘောထား ပြန်ကြား ခဲ့ပါသည်-

(က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့အနေဖြင့် ကန့်ကွက်ရန် မရှိကြောင်း သဘောထား ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-က**

(ခ) စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှ မွေးမြူရေးနှင့် ကုသရေး ဦးစီးဌာန၏ မွေးမြူရေးလုပ်ငန်းကျင့်စဉ် (GAHP) နှင့် အညီ လိုက်နာ ဆောင်ရွက်မည် ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ခ**

(ဂ) သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန ရင်းနှီးမြှုပ်နှံမှုဌာန ဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာနမှ ပတ်ဝန်း ကျင်နှင့် လူမှုရေးထိခိုက်မှု မရှိစေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေး အတွက် ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination - IEE) ကိုဆောင်ရွက်ရန်၊ ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental

Management Plan-EMP)ကို ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန် သဘောထား ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ဂ**

၉။ ငွေကြေးထောက်အထားအဖြစ် Vitabio Myanmar Company Limited အမည်ဖြင့် Shinhan Bank တွင် (၂၂-၁၂-၂၀၁၇) ရက်နေ့၌ USD ၈၀,၀၀၀.၀၀ နှင့် USD ၂၄၀,၀၀၀.၀၀ ရှိကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၁၀။ အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာ ဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) စက်ရုံ၌ အလုပ်သမားများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေးကြိုတင် ကာကွယ်ရေးစီမံချက်နှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို လည်းတင်ပြထားပါသည်။

(ဂ) အတည်ပြု လျှောက်ထားလွှာဖြင့် တင်ပြရသည့် အကြောင်းအရင်းမှာ ၁၅/၂၀၁၇ ဇယား(ဃ) တွင် ပါဝင်သော ဝန်ကြီးဌာနသဘောထားမှတ်ချက်တောင်းရန် လိုအပ်သော လုပ်ငန်းဖြစ်ပါသဖြင့်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ (ရုံးချုပ်) အတည်ပြုချက် တင်ပြရမည့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်း ဖြစ်ပါသည်။

(ဃ) အဆိုပြုလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှု ဦးစားပေးမြှင့်တင်မည့် ကဏ္ဍတွင်ပါဝင်ပြီး ဖွံ့ဖြိုးမှုရှိသောဒေသများဇုန်(၂)တွင် ပါဝင်ကြောင်းစိစစ်တွေ့ရှိရပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၁။ ရခိုင်နန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Vitabio Myanmar Company Limited မှ ဝက်မွေးမြူရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်း ကိစ္စနှင့်စပ်လျဉ်း၍ အတည်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

# Vitabio Myanmar CompanyLimited.၏
## ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | **Vitabio Myanmar CompanyLimited** | Vitabio Company Limited<br>Represented by | |
| | | (a) Mr. Hyun Baek Kim<br>Korean<br>PP. No. M91925362<br>Managing Director | 102 dong, 702 ho, 67,Geongeung-ro, Geondeung-ri, Munmak-eup , Wonju- si, Gangwon- do, Republic of Korea |
| | | (b) Mr. Ki Jong Yu<br>Korean<br>PP. No. M21701120<br>Director | 905 dong-1304 ho, 487, Sangdae dong, Yuseong-gu, Daejeon, Republic of Korea |

| | | | |
|---|---|---|---|
| ၁။ | ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် | - ၀၉-၇၉၃၂၁၇၃၆၅ | |
| ၂။ | ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ | - | |
| ၃။ | ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး | - ဒေါ်မာမာမင်း | |
| ၄။ | ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ | - ဝက်မွေးမြူရောင်းချခြင်း လုပ်ငန်း | |
| ၅။ | ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ | - | - |
| ၆။ | ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ | - | - |
| ၇။ | ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် | - | - |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

MIC / 86 / 5/3

နောက်ဆက်တွဲ-က

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၈ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃၁.၁.၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက-၂/အ-၀၂၆/၂၀၁၈(၀၆၇)

၁။ Vitabio Co.,Ltd(Incorporate in Korea) မှ ၆၀%၊ Mr.Hyun Baek Kim(Korean) မှ ၂၀% နှင့် Mr. Ki Jong Yu(Korean)မှ ၂၀% အစုရှယ်ယာများ ထည့်ဝင်၍ မြန်မာနိုင်ငံတွင် Vitabio Myanmar Company Limited တည်ထောင်ပြီး ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်၊ ကြာအင်းကျေးရွာအုပ်စု၊ မြေကွက်အမှတ်-(အေ-၂၃)၊ စီ-၆ လမ်း၊ အထူးဇုန်(၁)၊ ကွင်းအမှတ်-၉၇၇/၉၈၇ မြေဧရိယာ ၅ ဧက(၂၀၂၃၄ စတုရန်းမီတာ)အား ငှားရမ်း၍ ဝက်မွေးမြူရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ပေးပို့လာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ၁၄.၂.၂၀၁၈ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီအစည်းအဝေးအမှတ်စဉ်(၃/၂၀၁၈)အရ ကန့်ကွက်ရန် မရှိကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ် (ကိုယ်စား)
(နော်ပန်းသဉ္ဇာမျိုး၊ ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး)

**မိတ္တူကို**
တိုင်းဒေသကြီးဦးစီးမှူး၊ ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
လှည်းကူးမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Vitabio Myanmar Company Limited
လက်ခံစာတွဲ/မျှောစာတွဲ

D/2018/Lesson(k).,34

နောက်ဆက်တွဲ- ခ

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန**
**ပြည်ထောင်စုဝန်ကြီးရုံး**

စာအမှတ်၊ ၃/ ၂၀၀၀/ မွေးရေကျေး( ၀၂၆ /၂၀၁၈)
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ ဖေဖော်ဝါရီလ ၈ ရက်

အကြောင်းအရာ ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃၁-၁-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက-၂/အ-၀၂၆/၂၀၁၈(၀၆၆)

၁။ Vitabio Co., Ltd (Incorporate in Korea) မှ (၆၀%)၊ Mr. Hyun Baek Kim (Korean) မှ (၂၀%) နှင့် Mr. Ki Jong Yu (Korean) မှ (၂၀%) အစုရှယ်ယာများ ထည့်ဝင်၍ မြန်မာနိုင်ငံတွင် Vitabio Myanmar Company Limited တည်ထောင်ပြီး ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်၊ ကြာအင်း ကျေးရွာအုပ်စု၊ မြေကွက်အမှတ်-(အေ-၂၃)၊ စီ(-၆လမ်း)၊ အထူးဇုန်(၁)၊ ကွင်းအမှတ်-(၉၇၇/၉၈၇)၊ မြေဧရိယာ (၅)ဧက (၂၀၂၃၄ စတုရန်းမီတာ) ကို ငှားရမ်း၍ ဝက်မွေးမြူ ရောင်းချခြင်းလုပ်ငန်း အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုရန် Vitabio Myanmar Company Limited မှ အတည်ပြုလျှောက်ထားလွှာ တင်ပြလာမှုနှင့် ပတ်သက်၍ သဘောထား မှတ်ချက် ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနအနေဖြင့် Vitabio Myanmar Company Limited မှ ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်ရှိ မြေဧရိယာ (၅)ဧက (၂၀၂၃၄ စတုရန်းမီတာ) ကို ငှားရမ်း၍ ဝက်မွေးမြူရောင်းချခြင်းလုပ်ငန်းအား မွေးမြူရေးနှင့် ကုသရေးဦးစီးဌာန၏ မွေးမြူရေးလုပ်ငန်းကျင့်စဉ် (GAHP)နှင့်အညီ လိုက်နာဆောင်ရွက်မည် ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
ဒေါက်တာခင်ဇော်၊အမြဲတမ်းအတွင်းဝန်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

မိတ္တူ-

(၁) ညွှန်ကြားရေးမှူးချုပ်၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန
(၂) ရုံးလက်ခံ
(၃) မျှော

ST

MIC 1 50/5/2

နောက်ဆက်တွဲ-ဂ

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၁၁/ MIC (OSS)/ ၀၁(၃၂/၂၀၁၈)
ရက်စွဲ၊ ၂၀၁၈ ခုနှစ် ဖေဖော်ဝါရီလ ၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Vitabio Myanmar Co., Ltd. မှ ဝက်မွေးမြူရောင်းချခြင်းလုပ်ငန်းလုပ်ကိုင်ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၉-၂-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက-၂/ အ-၀၂၆/ ၂၀၁၈(၀၆၁-က)

၁။ Vitabio Myanmar Co., Ltd. မှ ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်၊ ကြာအင်းကျေးရွာအုပ်စု၊ မြေကွက်အမှတ်- အေ(၂၃)၊ စီ- ၆ လမ်း၊ အထူးဇုန်- ၁၊ ကွင်းအမှတ်- ၉၇၇/၉၈၇ ရှိမြေ ၅ ဧက (၂၀,၂၃၄ စတုရန်းမီတာ) ကို ငှားရမ်း၍ ဝက်မွေးမြူရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာအဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသောအဆိုပြုလွှာတွင် ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာနှစ် (၃၀) ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀) နှစ် (၂) ကြိမ်ဆောင်ရွက်မည်ဖြစ်ကာ၊ တည်ဆောက်ရေးကာလမှာ (၁) နှစ်ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းကို မြေ (၂၀,၂၃၄ စတုရန်းမီတာ) တွင် ဝက်မွေးမြူရန် အဆောက်အဦ (၃) လုံး၊ လိုအပ်သော ရုံးခန်း၊ သိုလှောင်ရုံအပါအဝင် အဆောက်အဦ (၁၂) လုံးနှင့်လမ်းများတည်ဆောက်ကာ လုပ်ငန်းများ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) ထုတ်လုပ်မှုအနေဖြင့် ပထမနှစ်တွင်အကောင်ရေ (၂၅၀၀) မှ (၁၀) နှစ်အတွင်းအကောင်ရေ (၂၉၀၀) အထိ တိုးချဲ့မွေးမြူကာ လုပ်ငန်းဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဃ) ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေး ကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်းထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(င) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၂%) ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင်ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(စ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ အနံ့အသက်များနှင့် စွန့်ပစ်ရေများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် လိုအပ်သောအစီအမံများနှင့် စွန့်ပစ်ရေပြန်လည်သန့်စင်သည့် ရေသန့်စင်ကန်များ တည်ဆောက်ကာ လုပ်ငန်းဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှ ထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပ

ဒေ၊ လုပ်ထုံး/လုပ်နည်း၊ အမိန့်နှင့် ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) Vitabio Myanmar Co., Ltd. မှ ဝက်မွေးမြူရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ရာတွင် အဆောက်အဦများ ဆောက်လုပ်ရန်အတွက် မြေတူးခြင်း၊ မြေသား ပြုပြင်ဖော်ထုတ်ခြင်း လုပ်ငန်းများမှ ထွက်ရှိလာမည့် မြေသား အမှုန်အမွှားများနှင့် ဖုန်မှုန့်များကြောင့် လေထု ညစ်ညမ်းခြင်း၊

(ခ) တည်ဆောက်လုပ်ငန်းသုံး ယာဉ်ယန္တယားများနှင့်စက်ပစ္စည်းများမှ ထွက်ရှိလာမည့်စက်ဆီ၊ ချောဆီနှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ရှိ မြေထု၊ ရေထုနှင့် လေထုညစ်ညမ်းခြင်း၊

(ဂ) ဝက်မွေးမြူရေးခြံအတွင်း ပိုးသတ်ဆေးဖြန်းခြင်းလုပ်ငန်းမှ ထွက်ရှိလာမည့် စွန့်ပစ်ရေဆိုးများ၊ toxic compound များကြောင့် ပတ်ဝန်းကျင်မြေထု/ ရေထု ညစ်ညမ်းခြင်းနှင့် လုပ်သားများ၏ ကျန်းမာရေးကို ထိခိုက်စေခြင်း၊

(ဃ) မွေးမြူရေးခြံအတွင်းမှ ထွက်ရှိလာမည့် ဝက်ချေးများ၊ အစာကြွင်းအစာကျန် ဆေးကြောသည့်နေရာများမှ ထွက်ရှိလာမည့် စွန့်ပစ်အရည်/ပစ္စည်းများနှင့် အစာသိုလှောင်သည့်နေရာနှင့် ဝက်မွေးမြူထားသည့်ခြံမှ ပတ်ဝန်းကျင်နေရာများသို့ ဆက်စပ်အနံ့ဆိုးများပျံ့နှံ့ရောက်ရှိခြင်းတို့ကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်းနှင့် ပတ်ဝန်းကျင်ရှိ ပြည်သူများ၏ ကျန်းမာရေးကို ထိခိုက်စေခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာစေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Vitabio Myanmar Co., Ltd. မှ ဝက်မွေးမြူရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့် လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက်လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များကိုအသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသားတင်အမြတ်ငွေ၏ (၂%) ကို အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျလိုက်နာ အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးအတွက် **ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination - IEE)** ကိုဆောင်ရွက်ပြီး ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များပါအတိုင်း အစီရင်ခံစာရေးသားတင်ပြရန်နှင့် ဝန်ကြီးဌာနမှလိုအပ်ပါက **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ပြုလုပ်ရန်၊

(ဂ) အထက်ပါ လေ့လာဆန်းစစ်မှုရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan - EMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်းအကောင်အထည် ဖော်ဆောင်ရွက်ရန်။

(ဃ) စီမံကိန်းဆောင်ရွက်မည့်သူများအနေဖြင့် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းနှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီစဉ်များ၊ အစီရင်ခံစာများရေးသားပြုစုရာတွင် ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများဖြည့်စွက် ၍တစ်ပါတည်းတင်ပြရန်၊

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့်နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများကိုလည်း ရယူ ဆောင်ရွက်ရန်၊

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်(ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ